သည်။ အကြောင်းမှာ ၄င်းသည် عَالِمٌ ၏နေရာတွင် အစားထိုး၍ရနိုင်သော ကြောင့်ဖြစ်သည်။ ထို့ကြောင့် ၄င်း၏ عَامِلٌ သည် اَلْمَعْنَوِيُّ (သဘောတရား အရ) သာဖြစ်သည်။ اَلْكُوفِيُّونَ ပညာရှင်အများစုထံတွင် اَلْفِعْلُ الْمُضَارِعُ ၏ عَامِلٌ သည် نَاصِبَاتٌ နှင့် جَازِمَاتٌ တို့မှ ကင်းစင်နေခြင်းဖြစ်သည်။ ဤ သည် اَلْإِمَامُ ابْنُ مَالِكٍ ရွေးချယ်ထားသော အဆိုဖြစ်သည်။

اَلْحَمْدُ لِلّٰهِ تَمَّتْ بِالْخَيْرِ

အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ၄. ၂. ၂၀၁၄ တနင်္လာနေ့ နံနက် ၈း၃၅ တွင်ပြန်ဆိုပြီးဆုံးပါသည်။

မော်လဝီ မိုဟမ္မဒ် ဘင်န် အီဗရာဟင်မ်
安永吉
(Al-Kausari)









# အရဗီစကားလုံးများ၏ နောက်ဆုံးအက္ခရာရှိသရကို ပြောင်းလဲစေသော အာမိလ်




ပြန်ဆိုသူ

မော်လဝီ မိုဟမ္မဒ် ဘင်န် အီဗရာဟင်မ်

安永吉

(Al-Kausari)

## မာတိကာ







ခေါ်သည်။

اِسْمٌ نَكِرَةٌ ၎င်းသည် မိမိ၏ မရှင်းလင်းမှုကို ဖယ်ရှားရှင်းလင်းပေးသော تَمْيِيْزٌ ကို အဖြစ် نَصْبٌ ပေးမည်။ ဥပမာ- عِنْدِي رِطْلٌ زَيْتًا وَمَنَوَانِ سَمْنًا وَعِشْرُوْنَ دِرْهَمًا ကျွန်ုပ်ထံတွင် **'ဆီ'** တစ်ရိုသ်လ်(အရဗ်အချိန်အတွယ်)၊ **'ထောပတ်'** နှစ် မန်းန်(အရဗ်အချင်အတွယ်) နှင့် **'ငွေဒင်္ဂါး'** နှစ်ဆယ်ရှိသည်။ لِي مِلْؤُهُ عَسَلًا ကျွန်ုပ်မှာ ဒီဟာအပြည့် **'ပျားရည်'** ရှိသည်။ (ပျားရည်ထည့်နိုင်သည့် ခွက်/ပုံးတစ်စုံတစ်ရာကို ညွှန်ပြပြီး ပြောသည်။)

## اَلْعَوَامِلُ الْمَعْنَوِيَّةُ

**'သဘောတရားအားဖြင့် عَمَلٌ လုပ်သော عَامِلٌ များ'**

اَلْمَعْنَوِيَّةُ ၏ အလိုသဘောမှာ عَامِلٌ ကို နှုတ်လျှာဖြင့်ရွတ်ဆို၍မရဘဲ စိတ်နှလုံးဖြင့်သာသိရှိနိုင်သော عَامِلٌ ကိုခေါ်သည်။ ၎င်းသည် (၂)ခုသာရှိသည်။

၁။ اَلْاِبْتِدَاءِ ဟုခေါ်သည့် مُبْتَدَأٌ နှင့် خَبَرٌ ကို رَفْعٌ ပေးသည့် عَامِلٌ ။ဆိုလိုသည်မှာ (اَلْعَوَامِلُ اللَّفْظِيَّةُ မှကင်းစင်နေခြင်း) ဖြစ်သည်။ ဥပမာ- زَيْدٌ مُنْطَلِقٌ ဇိုက်ဒ် သွားနေသည်။

၂။ اَلْفِعْلُ الْمُضَارِعُ တွင် رَفْعٌ ပေးသော عَامِلٌ မှာ (اِسْمٌ ၏နေရာတွင် အစားထိုး၍ရနိုင်ခြင်း) ဖြစ်သည်။ ဥပမာ- زَيْدٌ يَعْلَمُ တွင် يَعْلَمُ သည် مَرْفُوْعٌ ဖြစ်

97

٦။ اَلْمُضَافُ

၄င်းသည် اِسْمٌ တစ်ခုက အခြား اِسْمٌ တစ်ခုနှင့်ပေါင်းစပ်ထားပြီး ပထမ اِسْمٌ သည် ( ال နှင့် تَنْوِيْنٌ (သို့) تَنْوِيْنٌ ကိုယ်စားရပ်တည်သည့် تَثْنِيَةٌ နှင့် جَمْعٌ ၏ نُوْنٌ များ)ကင်းစင်လျက် ဒုတိယ اِسْمٌ အား جَرٌّ ပေးခြင်းကို اَلْإِضَافَةُ ဟု ခေါ်သည်။ ထို اِسْمٌ နှစ်ခုအနက် ပထမ اِسْمٌ ကို اَلْمُضَافُ ဟုခေါ်ပြီး ဒုတိယ اِسْمٌ ကို اَلْمُضَافُ إِلَيْهِ ဟုခေါ်သည်။

اَلْإِضَافَةُ သည် အဓိပ္ပါယ် (၃)မျိုးဖြစ်နိုင်သည်။

၁။ اَلْمُضَافُ إِلَيْهِ သည် اَلْمُضَافُ ၏အမျိုးအစားအနက်မှမဟုတ်သလို ၄င်း၏ ظَرْفٌ တည်နေရာ/အချိန်လည်း မဟုတ်ဘူးဆိုလျှင် اَللَّامُ ၏ အဓိပ္ပါယ်ပေးမည်။ ဥပမာ- غُلَامُ زَيْدٍ ဇိုက်ဒ် **'၏'** ကျွန်

၂။ اَلْمُضَافُ إِلَيْهِ သည် اَلْمُضَافُ ၏ အမျိုးအစား အနက်မှုဖြစ်လျှင် مِنْ ၏ အဓိပ္ပါယ်ပေးမည်။ ဥပမာ- خَاتَمُ فِضَّةٍ ငွေ **'မှဖြစ်သော'** လက်စွပ်

၃။ اَلْمُضَافُ إِلَيْهِ သည် اَلْمُضَافُ ၏ ظَرْفٌ တည်နေရာ/အချိန်ဖြစ်ခဲ့မည်ဆိုလျှင် فِيْ ၏ အဓိပ္ပါယ်ပေးမည်။ ဥပမာ- ضَرْبُ الْيَوْمِ ယနေ့ **'တွင်ဖြစ်သော'** ရိုက်ခြင်း

98

၇။ اَلْإِسْمُ التَّامُّ

မည်သည့် اِسْمٌ မဆို အဆုံးတွင် تَنْوِيْنٌ ရှိသောကြောင့် လည်းကောင်း၊ تَنْوِيْنٌ အစား ရပ်တည်သော تَثْنِيَةٌ နှင့် جَمْعٌ ၏ نُوْنٌ များရှိသောကြောင့် လည်းကောင်း၊ အစကတည်းက إِضَافَةٌ ပြုလုပ်ပြီးသားဖြစ်သောကြောင့် လည်းကောင်း၊ ပြည့်ဝပြီး နောက်ထပ် إِضَافَةٌ လုပ်စရာမလိုတော့သည့် اِسْمٌ ကို اَلْإِسْمُ التَّامُّ ဟု













## ပြန်ဆိုသူ၏အမှာ

شَرْحُ مِائَةِ عَامِلٍ ဟုဆိုလိုက်လျှင် ထိုစာအုပ်သည် အရဗီသဒ္ဒါစာအုပ်တစ်အုပ်ဖြစ်ကြောင်း အထူးရှင်းပြရန် လိုမည်မထင်။ သို့သော် ထိုကျမ်းငယ်လေးသည် 'အရဗီသဒ္ဒါစာအုပ်တစ်အုပ်ဖြစ်သည်' ဆိုခြင်းထက်ပိုသည်။ အကြောင်းမှာ ထိုကျမ်းငယ်တွင် တင်ပြထားသော အရဗီဝေါဟာရများကို မြန်မာလို ကောင်းစွာနားလည်ထားမှသာလျှင် ကုရ်အာန်ကျမ်းမြတ်၊ ဟဒီးဆ်တော်များနှင့် အခြားအရဗီအလင်္ကာရသ စာပေများကို ကောင်းစွာ နားလည်သဘောပေါက်နိုင်မည်။

ပမာအားဖြင့်ဆိုရသော် إِلَى ဟူသော စကားလုံးသည် اَلْمُصَاحَبَةُ အတူတကွ၏ အဓိပ္ပါယ်လည်းပေးကြောင်း မသိထားလျှင် وَلَا تَأْكُلُوا أَمْوَالَهُمْ إِلَى أَمْوَالِكُمْ ဟူသော အာယသ်တော်ကို 'အသင်တို့သည် ၎င်း(ဖမဲ့ကလေးငယ်)တို့၏ဥစ္စာပစ္စည်းများကို အသင်တို့၏ ဥစ္စာပစ္စည်းများ 'သို့' မစားသောက်ကြကုန်နှင့်။' ဟု နားလည်မှု မှားယွင်းသွားပေလိမ့်မည်။ စင်စစ်မှာ 'အသင်တို့၏ဥစ္စာပစ္စည်းများ 'နှင့်အတူ' မစားသောက်ကြကုန်နှင့်။' ဟု ပြန်ဆိုရပေမည်။

ထို့နည်းတူစွာ مِنْ သည် اَلزِّيَادَةُ ဝါကျတွင် သီးသန့်အဓိပ္ပါယ် ကောက်ယူ၍မရဘဲ အပိုအနေနှင့် သုံးစွဲနိုင်ကြောင်း မသိထားလျှင် يَغْفِرْ لَكُمْ مِنْ ذُنُوبِكُمْ ဟူသောအာယသ်တော်ကို 'ထိုအရှင်မြတ်သည် အသင်တို့၏ အပြစ်များ 'မှ' ခွင့်လွှတ်တော်မူမည်။ ' ဟုမှားယွင်းစွာ ပြန်ဆိုပေလိမ့်မည်။ စင်စစ်မှာ 'ထိုအရှင်မြတ်သည် အသင်တို့၏ အပြစ်များကို ခွင့်လွှတ်တော်မူမည်။' ဟုပြန်ဆိုရမည်။

စာရှုသူ၏ လက်ဝယ်၌ ရှိသော شَرْحُ مِائَةِ عَامِلٍ မြန်မာပြန် စာအုပ်ငယ်သည် အရဗီသဒ္ဒါ နားလည်ရုံအတွက်သက်သက်မဟုတ်ဘဲ အရဗီမှ မြန်မာ





تَصْرِيفٌ ဟု ضَارِبَاتٌ ပြုလုပ်သည်။

၎င်းသည် အချိန်ကာလကန့်သတ်ချက်မပါဘဲ မိမိ၏ فِعْلٌ ကဲ့သို့ عَمَلٌ လုပ်မည်။ အကြောင်းမှာ ၎င်းသည် အမြဲတည်ရှိမှု၏ အဓိပ္ပါယ်ပေးခြင်းကြောင့်ဖြစ်သည်။ သို့သော် ၎င်းတွင် တစ်စုံတစ်ရာအပေါ် မှီခိုရမည်ဟူသည့် စည်းကမ်းချက်တော့ ရှိလေသည်။ ၎င်းသည် اِسْمُ الْفَاعِلِ နှင့် اِسْمُ الْمَفْعُولِ တွင်သတ်မှတ်ထားသော အချက် (၅)ချက်အနက်မှ اَلْمَوْصُولُ မှအပ ကျန် (၄)ချက်ပေါ်တွင် မှီခိုရမည်။ အဘယ်ကြောင့်ဆိုသော် اَلصِّفَةُ الْمُشَبَّهَةُ တွင်ဝင်သော ال မှာ اَلْمَوْصُولُ အတွက်မဟုတ်ကြောင်း ပညာရှင်အားလုံးက တစ်ညီတစ်ညွတ်တည်း ဆုံးဖြတ်ထားသောကြောင့် ဖြစ်သည်။

၎င်း၏ مَعْمُولٌ သည် နှစ်မျိုးဖြစ်နိုင်သည်။

၁။ مَنْصُوبٌ ဖြစ်သည်။ ထိုသို့ဖြစ်ရန် အကြောင်းနှစ်ခုရှိသည်။

(က) نَكِرَةٌ အဖြစ်လာလျှင် تَمْيِيزٌ ဖြစ်သောကြောင့်

(ခ) مَعْرِفَةٌ အဖြစ်လာလျှင် مَفْعُولٌ ဖြစ်သောကြောင့်

၂။ إِضَافَةٌ ကြောင့် مَجْرُورٌ ဖြစ်မည်။

**မှတ်ချက်။** ။ اِسْمُ الْفَاعِلِ ၏ ပုံစံများသည် قِيَاسِيٌّ ချင့်ချိန်နိုင်းဆသုံးစွဲနိုင်သော်လည်း اَلصِّفَةُ الْمُشَبَّهَةُ ၏ ပုံစံများသည် سَمَاعِيٌّ ချင့်ချိန်နိုင်းဆသုံးစွဲ၍မရဘဲ အရဗ်တို့သုံးစွဲသည့်အတိုင်း ပုံသေသုံးစွဲရပေမည်။ ဥပမာ- حَسَنٌ ، صَعْبٌ ، شَدِيدٌ

(ဃ) ذُوالْحَالِ ပေါ်တွင်မှီခိုပြီး ၎င်းက اَلْحَالُ ဖြစ်မည်။
ဥပမာ- جَائَنِيْ زَيْدٌ مَضْرُوْبًاغُلاَمُهُ ဇိုက်ဒ်သည် သူ၏ကျွန်အရိုက်ခံနေရစဉ် ကျွန်ုပ်ထံလာသည်။

(င) اَلنَّفْيُ သို့မဟုတ် اَلْإِسْتِفْهَامُ ပေါ်တွင်မှီခိုမည်။ ဥပမာ- مَامَضْرُوْبٌ غُلاَمُهُ သူ၏ကျွန် အရိုက်မခံရပါ။ أَمَضْرُوْبٌ غُلاَمُهُ သူ၏ကျွန် ရိုက်ခံနေရပါသလား။

**မှတ်ချက်(၁)။** ။ ဖော်ပြပါစည်းကမ်းချက်(၂)ချက်အနက်မှ တစ်ချက်လျော့နည်းနေပါက اِسْمُ الْمَفْعُوْلِ သည် လုံးဝ عَمَلٌ လုပ်မည်မဟုတ်ပေ။ ထိုအချိန်တွင် ၎င်းသည် မိမိနောက်တွင်ရှိသော စာလုံးဘက်သို့ إِضَافَةٌ လုပ်၍ သုံးရမည်။

**မှတ်ချက်(၂)။** ။ اِسْمُ الْمَفْعُوْلِ သည် ال ဝင်ရောက်နေပါက ဖော်ပြပါ စည်းကမ်းချက်များ မလိုအပ်တော့ဘဲ အခြေအနေတိုင်းတွင် عَمَلٌ လုပ်မည်။ ဥပမာ- جَائَنِيْ الْمَضْرُوْبُ غُلاَمُهُ

## ၅။ اَلصِّفَةُ الْمُشَبَّهَةُ

၎င်းသည် မိမိ၏ مَصْدَرٌ က မိမိ၏ فَاعِلٌ တွင် အမြဲတည်ရှိမှုကို ဖော်ပြရန်အတွက် اَلْفِعْلُ اللَّازِمُ မှခွဲထွက်လာသော اِسْمٌ ဖြစ်သည်။

၎င်းသည် اِسْمُ الْفَاعِلِ နှင့် اَلتَّصْرِيْفُ (စကားလုံးဆင့်ပွားနည်း)နှင့် ဖြစ်ခြင်းတွင် တူသည်။ ဥပမာ- حَسَنٌ ، حَسَنَانِ ، حَسَنُوْنَ ، حَسَنَةٌ ، حَسَنَتَانِ ، صِفَةٌ حَسَنَاتٌ

ضَارِبٌ ، ضَارِبَانِ ، ضَارِبُوْنَ ، ضَارِبَةٌ ، ضَارِبَتَانِ ، တွင်လည်း اِسْمُ الْفَاعِلِ





သို့ ဝေါဟာရဖလှယ်ရာတွင် အရေးကြီးသော အသုံးအနှုန်းများကို ဦးစားပေးတင်ပြထားပါသည်။ ထို့ပြင် عَامِلٌ တစ်ခုချင်းစီကို (၁)မှ (၁၀၀)အထိ နံပါတ်စဉ်များတပ်ပေးထားပါသည်။

ဤမပြောပလောက်သည့် ကြိုးပမ်းမှုလေးကို အလ္လာဟ်အရှင်မြတ် နှစ်သက်လက်ခံပြီး မြန်မာစာဖတ်သူများအဖို့ အကျိုးဖြစ်ထွန်း စေရန်လည်း မျှော်လင့်ပါသည်။

ဤစာအုပ်ငယ်ကို စိစစ်တည်းဖြတ်ပေးခဲ့သော ကျွန်တော်၏ချစ်မိတ်ဆွေနှစ်ဦး ဖြစ်သည့် မွတ်ဖ်သီ မုဟမ္မဒ်အာဆွင်မ်(မဇ္ဇာဟေ့ရီ၊ နဒ်ဝီ)နှင့် မွတ်ဖ်သီ မုဟမ္မဒ်ဟမ်ဇား (နဒ်ဝီ)တို့ကို အထူးကျေးဇူးတင်ရှိပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။

အလ္လာဟ်အရှင်မြတ် ကမ္ဘာ့မွတ်စ်လင်မ်ထုတစ်ရပ်လုံးကို အရဗီဘာသာစကားအား လွယ်ကူစွာလေ့လာနိုင်စွမ်း ပေးသနားတော်မူပါစေ။ (အာမီးန်)

မော်လဝီ မိုဟမ္မဒ် ဘင်န် အီဗရာဟင်မ်
安永吉
*(Al-Kausari)*



ﷺ

## နိဒါန်း

အလ္လာဟ်အရှင်မြတ်၏ ဝေနေယျခပ်သိမ်းတို့အပေါ် ခြုံငုံလျှက်ရှိသော ပြည့်စုံကုံလုံသည့် ကျေးဇူးတော်များအတွက် အရှင်မြတ်အား ချီးမွမ်းထောမနာပြုအပ်ပါသည်။ ၎င်းနောက် နဗီတမန်တော်များ၏ သင်းကျစ်သရဖူ မြတ်ရစူလ် မိုဟမ္မဒ် ﷺ သခင်အပေါ်သို့ ငြိမ်းချမ်းမှုအပေါင်းခညောင်းပါစေကြောင်းစလာမ် မေတ္တာ ပို့သအပ်ပါသည်။ ထို့ပြင် ကိုယ်တော်မြတ်၏ ဆွေတော်မျိုးတော်အပေါင်း အပေါ်သို့လည်း အေးချမ်းမှုများ ကျရောက်ပါစေသား။

(အို-စာရှုသူ) အသင်မှတ်သားပါ။ အေမာမ်ကြီး عَبْدُ الْقَاهِرِبْنُ عَبْدِ الرَّحْمٰنِ الْـجُرْجَانِيُ ၏ ပြုစုရေးသားချက်အရ اَلنَّحْوُ အရဗီသဒ္ဒါတွင် عَامِلٌ (နောက်ဆုံးအက္ခရာပေါ်ရှိ رَفْعٌ، نَصْبٌ، جَرٌّ ကို ပြောင်းလွဲစေသောစကားလုံး)သည် (၁၀၀)ရှိသည်။ ထိုထဲမှ အချို့သည် لَفْظِيَّةٌ (စကားလုံးအားဖြင့် عَمَلٌ လုပ်ပြီး) အချို့သည် مَعْنَوِيَّةٌ (သဘောတရားအားဖြင့် عَمَلٌ လုပ်သည်။)

لَفْظِيَّةٌ သည် နှစ်မျိုးရှိသည်။

(၁) سَمَاعِيَّةٌ (ပုံသေနည်းမရှိဘဲ အရဗ်တို့သုံးစွဲသည့်အတိုင်း တစ်သဝေမတိမ်းသုံးစွဲရသော عَامِلٌ )

(၂) قِيَاسِيَّةٌ (ပုံသေနည်းရှိပြီး အခြားမျိုးတူများကိုလည်း ဆင့်ပွားနိုင်းယှဉ်အသုံးပြုနိုင်သော عَامِلٌ )





اَلْمُشَابَهَةُ နှင့် اَلْفِعْلُ الْمُضَارِعُ သည် اِسْمُ الْمُبَالَغَةِ မှာ စစ်မှာ اَللَّفْظِيَّةُ စကားလုံးအရ တူဆင်မှု မရှိသော်လည်း ၎င်းတွင်ပါသောအဓိပ္ပါယ်သာပိုမှုကို လျှော့နည်းခဲ့သောစကားလုံးတူဆင်မှု၏နေရာတွင် အစားထိုးလိုက်ခြင်းဖြစ်သည်။

### ၄။ اِسْمُ الْمَفْعُوْلِ

၎င်းသည် فِعْلٌ တိုက်ရိုက်သက်ရောက်ခံရသော တစ်စုံတစ်ရာ/ယောက်ကို ရည်ညွှန်းရန် مَصْدَرٌ မှခွဲထွက်လာသော اِسْمٌ ကိုခေါ်သည်။ ၎င်းသည် မိမိ၏ اَلْفِعْلُ الْمَجْهُوْلُ အတိုင်း نَائِبُ الْفَاعِلِ ကို رَفْعٌ ပေးမည်။

၎င်း عَمَلٌ လုပ်ရန် စည်းကမ်းချက် (၂)ချက်ရှိသည်။

၁။ اَلْحَالُ وَالْاِسْتِقْبَالُ ပစ္စုပ္ပန်နှင့်အနာဂတ်၏ အဓိပ္ပါယ်ပေးရမည်။

၂။ အောက်ပါအချက် (၅)ချက်အနက် တစ်ခုခုပေါ်တွင် မှီခိုနေရမည်။

(က) مُبْتَدَأٌ ပေါ်တွင်မှီခိုပြီး ၎င်းက خَبَرٌ ဖြစ်မည်။

ဥပမာ- زَيْدٌ مَضْرُوْبٌ غُلَامُهُ الْآنَ أَوْغَدًا ဇိုက်ဒ် သူ၏ ကျွန်သည် ယခုအရိုက်ခံနေရသည်။/ မနက်ဖြန်အရိုက်ခံရမည်။

(ခ) مَوْصُوْلٌ ပေါ်တွင်မှီခိုပြီး ၎င်းက صِلَةٌ ဖြစ်မည်။

ဥပမာ- اَلْمَضْرُوْبُ غُلَامُهُ زَيْدٌ သူ၏ကျွန်အရိုက်ခံရသူသည် ဇိုက်ဒ်ဖြစ်သည်။

(ဂ) مَوْصُوْفٌ ပေါ်တွင်မှီခိုပြီး ၎င်းက صِفَةٌ ဖြစ်မည်။

ဥပမာ- جَائَنِيْ رَجُلٌ مَضْرُوْبٌ غُلَامُهُ သူ့ရဲ့ကျွန်က အရိုက်ခံနေရသော အမျိုးသားတစ်ဦး ကျွန်ုပ်ထံလာသည်။

သားက အမျိုးသမီးတစ်ယောက်ကို ရိုက်နေသော အမျိုးသားတစ်ဦး အနီးမှ ဖြတ်သွားခဲ့သည်။

(ဃ) ذُوالْحَالِ ပေါ်တွင်မှီခိုပြီး ၎င်းက اَلْحَالُ ဖြစ်မည်။
ဥပမာ- مَرَرْتُ بِزَيْدٍ رَاكِبًاأَبُوْهُ ကျွန်တော်သည် ဇိုက်ဒ်အနီးမှ သူ၏ဖခင်က စီးနင်းလျှက်ရှိနေစဉ်တွင် ဖြတ်သန်းသွားခဲ့သည်။

(င) اَلنَّفْيُ သို့မဟုတ် اَلْإِسْتِفْهَامُ ပေါ်တွင်မှီခိုမည်။ ဥပမာ- مَاقَائِمٌ أَبُوْهُ သူ၏ဖခင် ရပ်မနေပါ။ أَقَائِمٌ أَبُوْهُ သူ၏ဖခင် ရပ်နေသလား။

**မှတ်ချက်(၁)။** ။ ဖော်ပြပါစည်းကမ်းချက်(၂)ချက်အနက်မှ တစ်ချက်လျော့နည်းနေပါက اِسْمُ الْفَاعِلِ သည် လုံးဝ عَمَلٌ လုပ်မည်မဟုတ်ပေ။ ထိုအချိန်တွင် ၎င်းသည် မိမိနောက်တွင်ရှိသော စာလုံးဘက်သို့ إِضَافَةٌ လုပ်၍ သုံးရမည်။ ဥပမာ- مَرَرْتُ بِزَيْدٍ ضَارِبِ عَمْرٍو أَمْسِ မနေ့က အမ်ရ်ကို ရိုက်ခဲ့တဲ့ ဇိုက်ဒ်အနီးမှ ဖြတ်သန်းသွားခဲ့သည်။

**မှတ်ချက်(၂)။** ။ اِسْمُ الْفَاعِلِ သည် ال ဝင်ရောက်နေပါက အခြေအနေတိုင်းတွင် عَمَلٌ လုပ်မည်။ اَلْمُسْتَقْبَلُ ဖြစ်စေ၊ اَلْمَاضِيُ ဖြစ်စေ၊ ထို့အတူ ဖော်ပြပါအချက် (၅)ချက်အပေါ်တွင် မှီခိုနေသည်ဖြစ်စေ၊ မမှီခိုသည်ဖြစ်စေ عَمَلٌ လုပ်မည်။ ဥပမာ-
اَلضَّارِبُ عَمْرًا اَلْآنَ / أَمْسِ / غَدًا هُوَزَيْدٌ

**မှတ်ချက်(၃)။** ။ ضَرَّابٌ/ ضَرُوْبٌ /مِضْرَابٌ) اِسْمُ الْمُبَالَغَةِ အလွန်ရိုက်သော သူ၊ حَذِرٌ အလွန်သိသောသူ၊ عَلَّامَةٌ / عَلِيْمٌ အလွန်သတိရှိသူ စသည့်ပုံစံများသည်) اِسْمُ الْفَاعِلِ ကဲ့သို့ عَمَلٌ လုပ်မည်။ စင်






سَمَاعِيَّةٌ တွင် عَامِلٌ ပေါင်း (၉၁) ခုရှိပြီး အမျိုးအစား (၁၃)စုခွဲထားလေသည်။ قِيَاسِيَّةٌ တွင် عَامِلٌ ပေါင်း (၇) ခုရှိသည်။
مَعْنَوِيَّةٌ တွင် عَامِلٌ (၂) ခုသာရှိသည်။

အောက်ပါဇယားကိုကြည့်၍ ဖော်ပြပါ عَامِل အမျိုးကွဲများကို ရှင်းလင်းစွာသိနိုင်ပါသည်။



﷽

# اَلْعَوَامِلُ اللَّفْظِيَّةُ

**‘ စကားလုံးအားဖြင့် عَمَلٌ လုပ်သော عَامِلٌ များ’**

၄င်းသည် (၉၈)လုံးရှိသည်။ ၄င်းတို့ကို အမျိုးအစားနှစ်မျိုးခွဲခြားထားပါသည်။ (၁) اَلسَّمَاعِيَّةُ (၂) اَلْقِيَاسِيَّةُ

## (١) اَلْعَوَامِلُ اللَّفْظِيَّةُ السَّمَاعِيَّةُ

၄င်းသည် (၉၁)လုံးရှိသည်။ ၄င်းတို့ကို အမျိုးအစား (၁၃)ခုခွဲထားပါသည်။

### النوع الأوّل

**‘ ပထမအမျိုးအစား’**

اَلْحُرُوفُ ကို جَرٌّ ပေးသော حَرْفٌ များဖြစ်သည်။ ၄င်းတို့ကို اِسْمٌ اَلْجَارَّةُ ဟုခေါ်သည်။ ၄င်းတို့သည် (၁၇)လုံးရှိသည်။

၁။ اَلْبَاءُ

၄င်းသည် အဓိပ္ပါယ် (၁၁)မျိုးအတွက် အသုံးပြုသည်။

(၁) اَلْإِلْصَاقُ အရာနှစ်ခုပူးတွဲခြင်း၏ အဓိပ္ပါယ်

(က) ဓမ္မစစ်ပူးတွဲသည်ဖြစ်စေ၊ ဥပမာ- بِهِ دَاءٌ သူ့ ‘မှာ’ ရောဂါရှိတယ်။

(ခ) သဘောတရားအရပူးတွဲသည်ဖြစ်စေ၊ ဥပမာ- مَرَرْتُ بِزَيْدٍ ဇိုက်ဒ်





၉။ اِسْمُ الْفَاعِلِ

၄င်းသည် فِعْلٌ ကမှီခိုရပ်တည်ရသော တစ်စုံတစ်ရာ/ယောက် ကို ရည်ညွှန်းရန် مَصْدَرٌ မှခွဲထွက်လာသော اِسْمٌ ကိုခေါ်သည်။ ၄င်းသည် مَصْدَرٌ ကဲ့သို့ပင် မိမိ၏ فِعْلٌ အတိုင်း عَمَلٌ လုပ်မည်။ اَلْفِعْلُ اللَّازِمُ ၏ اِسْمُ الْفَاعِلِ သည် فَاعِلٌ ကိုသာ رَفْعٌ ပေးမည်။ ဥပမာ- زَيْدٌ قَائِمٌ أَبُوهُ ဇိုက်ဒ် သူ့အဖေ ရပ်နေ၏။

اَلْفِعْلُ الْمُتَعَدِّيْ ၏ اِسْمُ الْفَاعِلِ သည် فَاعِلٌ ကို رَفْعٌ ပေးရုံမက مَفْعُوْلٌ ကိုပါ نَصْبٌ ပေးမည်။ ဥပမာ- زَيْدٌ ضَارِبٌ غُلَامُهُ عَمْرًا ဇိုက်ဒ် သူ့ကျွန်က အမ်ရ်ကို ရိုက်နေတယ်။

၄င်း عَمَلٌ လုပ်မည့် စည်းကမ်းချက် (၂)ချက်ရှိသည်။

၁။ اَلْحَالُ وَالْاِسْتِقْبَالُ ပစ္စုပ္ပန်နှင့်အနာဂတ်၏ အဓိပ္ပါယ်ပေးရမည်။ အကြောင်းမှာ ၄င်းသည် لَفْظًا အက္ခရာအရေအတွက်၊ حَرَكَاتٌ وَ سَكَنَاتٌ များအရ اَلْفِعْلُ الْمُضَارِعُ နှင့် တူဆင်ပြီးဖြစ်သောကြောင့် مَعْنًى အဓိပ္ပါယ်အရပါ တူဆင်သွားစေရန်ဖြစ်သည်။

၂။ အောက်ပါအချက် (၅)ချက်အနက် တစ်ခုခုပေါ်တွင် မှီခိုနေရမည်။

(က) مُبْتَدَأٌ ပေါ်တွင်မှီခိုပြီး ၄င်းက خَبَرٌ ဖြစ်မည်။

ဥပမာ- زَيْدٌ قَائِمٌ أَبُوهُ ဇိုက်ဒ်၏အဖေရပ်နေသည်။

(ခ) مَوْصُوْلٌ ပေါ်တွင်မှီခိုပြီး ၄င်းက صِلَةٌ ဖြစ်မည်။

ဥပမာ- اَلضَّارِبُ عَمْرًا فِي الدَّارِ = اَلَّذِيْ هُوَ ضَارِبٌ عَمْرًا فِي الدَّارِ ဇိုက်ဒ်ကို ရိုက်သောသူသည် အိမ်ထဲတွင်ရှိသည်။

(ဂ) مَوْصُوْفٌ ပေါ်တွင်မှီခိုပြီး ၄င်းက صِفَةٌ ဖြစ်မည်။

ဥပမာ- مَرَرْتُ بِرَجُلٍ ضَارِبٍ اِبْنُهُ جَارِيَةً ကျွန်တော်သည် သူ့ရဲ့

اَلْمَصْدَرُ အသုံးပြုပုံကို ဖော်ပြရာတွင် အပိုင်း(၂)ပိုင်းရှိသည်။

၁။ اَلْفِعْلُ اللَّازِمُ ၏ مَصْدَرٌ ။ ၎င်းကို فَاعِلٌ ဘက်သို့ إِضَافَةٌ ပြုလျှက် အသုံးပြုရမည်။ ထို فَاعِلٌ ကို ဖြုတ်၍မရသလို مَصْدَرٌ ထက်လည်း အလျှင်ယူလာလို့မရပါ။ ဥပမာ- أَعْجَبَنِي قُعُوْدُ زَيْدٍ ဇိုက်ဒ်ထိုင်ခြင်းကို ကျွန်ုပ်နှစ်သက်သည်။

၂။ اَلْفِعْلُ الْمُتَعَدِّى ၏ مَصْدَرٌ ။ ၎င်းကို ပုံစံ (၅)မျိုးဖြင့် အသုံးပြုနိုင်သည်။

(က) فَاعِلٌ ဘက်သို့ إِضَافَةٌ ဖြစ်လျှက် مَفْعُوْلٌ ကို مَنْصُوْبًا ယူလာသည့်ပုံစံ။ ဥပမာ- أَعْجَبَنِي ضَرْبُ زَيْدٍ عَمْرًا ဇိုက်ဒ်က အမ်ရ်အား ရိုက်ခြင်းသည် ကျွန်ုပ်ကို နှစ်သက်စေခဲ့သည်။

(ခ) فَاعِلٌ ဘက်သို့ إِضَافَةٌ ဖြစ်လျှက် مَفْعُوْلٌ ကို မဖော်ပြသည့်ပုံစံ။ ဥပမာ- عَجِبْتُ مِنْ ضَرْبِ زَيْدٍ ဇိုက်ဒ်၏ ရိုက်ခြင်းကို ကျွန်တော် အံ့သြခဲ့သည်။

(ဂ) نَائِبُ الْفَاعِلِ ဘက်သို့ إِضَافَةٌ ဖြစ်နေသည့်ပုံစံ။ ဥပမာ- عَجِبْتُ مِنْ ضَرْبِ زَيْدٍ = عَجِبْتُ مِنْ أَنْ يُضْرَبَ زَيْدٌ ဇိုက်ဒ်ရိုက်ခံရခြင်းကို ကျွန်ုပ်အံ့သြခဲ့သည်။

(ဃ) مَفْعُوْلٌ ဘက်သို့ إِضَافَةٌ ဖြစ်ပြီး فَاعِلٌ ကို مَرْفُوْعًا ယူလာသည့်ပုံစံ။ ဥပမာ- عَجِبْتُ مِنْ ضَرْبِ اللِّصِّ الْجَلَّادُ သူခိုးကို အာဏာပါးကွပ်သားက ရိုက်နှက်လိုက်ခြင်းအား ကျွန်ုပ်နှစ်သက်ခဲ့သည်။

(င) مَفْعُوْلٌ ဘက်သို့ إِضَافَةٌ ဖြစ်ပြီး فَاعِلٌ ကို မဖော်ပြသည့်ပုံစံ။ ဥပမာ- لَايَسْئَمُ الْإِنْسَانُ مِنْ دُعَاءِ الْخَيْرِ = مِنْ دُعَائِهِ الْخَيْرَ လူသားသည် ကောင်းခြင်းကိုတောင်းခံရာတွင် ငြီးငွေ့သွားသည်ဟူ၍ မရှိချေ။





'အနီးမှ' ကျွန်တော် ဖြတ်သွားခဲ့သည်။

(၂) اَلْإِسْتِعَانَةُ အကူအညီရယူမှု၏ အဓိပ္ပါယ် ဥပမာ- كَتَبْتُ بِالْقَلَمِ ကျွန်တော် ဖောင်တိန် 'ဖြင့်' ရေးခဲ့သည်။

(၃) اَلتَّعْلِيْلُ အကြောင်းပြချက်ကို ဖော်ပြရန် ဥပမာ- ﴿إِنَّكُمْ ظَلَمْتُمْ أَنْفُسَكُمْ بِاتِّخَاذِكُمُ الْعِجْلَ﴾ အသင်တို့သည် နွားပေါက်ကို (ဘုရားအဖြစ်)သတ်မှတ်ယူ ခဲ့ကြခြင်း 'ကြောင့်' အသင်တို့သည် မိမိတို့ကိုယ်ကို ညှင်းဆဲခဲ့ကြလေပြီ။

(၄) اَلْمُصَاحَبَةُ အတူတကွဖြစ်မှုကို ဖော်ပြရန် ဥပမာ- اِشْتَرَيْتُ الْفَرَسَ بِسَرْجِهِ ကျွန်တော်သည် မြင်းကို သူ၏ ကုန်းနှီး 'နှင့်တကွ' ဝယ်ခဲ့သည်။

(၅) اَلتَّعْدِيَةُ ကံမလိုကြိယာ لَازِمٌ ကို ကံလိုကြိယာ مُتَعَدٍّ ဖြစ်အောင် ပြုလုပ်ပေးရန် ဥပမာ- ذَهَبَ اللّٰهُ بِنُوْرِهِمْ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ နူရ်(အလင်းရောင်ကို) ရုတ်သိမ်း'ယူဆောင်' သွားခဲ့သည်။

(၆) اَلْمُقَابَلَةُ အလဲအလှယ်ပြုခြင်း၏ အဓိပ္ပါယ် ဥပမာ- اِشْتَرَيْتُ الْعَبْدَ بِالْفَرَسِ ကျွန်တော်သည် ကျွန်ကို မြင်းဖြင့် 'လဲလှယ်ကာ' ဝယ်ခဲ့သည်။

(၇) اَلْقَسَمُ ကျိန်ဆိုသည့် အဓိပ္ပါယ်ပေးရန် ဥပမာ- بِاللّٰهِ لَأَفْعَلَنَّ كَذَا အလ္လာဟ်အရှင်မြတ်ကို တိုင်တည်'ကျိန်ဆိုပါသည်' ။ ငါဒီအလုပ်ကိုမုချလုပ်မည်။

(၈) اَلْإِسْتِعْطَافُ သက်ညှာမှုကို တောင်းခံရန် ဥပမာ- اِرْحَمْ بِزَيْدٍ ဇိုက်ဒ် 'ကို' ကရုဏာသက်လိုက်ပါ။

(၉) اَلظَّرْفِيَّةُ နေရာပြရန်အတွက် ဥပမာ- زَيْدٌ بِالْبَلَدِ ဇိုက်ဒ် မြို့ 'မှာ' ရှိသည်။

(၁၀) اَلزِّيَادَةُ ဝါကျတွင် အပိုထည့်သုံးရန် ဥပမာ- وَلَاتُلْقُوْا بِأَيْدِيْكُمْ إِلَى التَّهْلُكَةِ အသင်တို့၏လက်တွေကို ပျက်စီးမှုထဲသို့ မထည့်နှင့်။ وَكَفٰى بِاللّٰهِ شَهِيْدًا အလ္လာဟ်အရှင်မြတ်သည် သက်သေဖြစ်ရန်လုံလောက်သည်။(ဥပမာနှစ်ခု



စလုံးတွင် اَلْبَاءُ သည် اَلنَّحْوُ အရ မည်သည့်အဓိပ္ပါယ်မျှ မပေးပါ။)

(၁၁) عَنْ (ပတ်သက်ခြင်း)၏ အဓိပ္ပါယ်ပေးရန် ဥပမာ- سَأَلَ سَائِلٌ بِعَذَابٍ وَّاقِعٍ ကျရောက်တော့မည့်ပြစ်ဒဏ် **'နှင့်ပတ်သက်၍'** မေးသူက မေးသည်။

## اَللَّامُ ။၂

၎င်းသည် အဓိပ္ပါယ် (၆)မျိုးအတွက်အသုံးပြုသည်။

(၁) اَلْاِخْتِصَاصُ သီးသန့်အထူးပြုရန်အတွက် ဥပမာ- اَلْجُلُّ لِلْفَرَسِ တန်ဆာပလာများသည် မြင်း **'အတွက်'** ဖြစ်သည်။

(၂) اَلتَّمْلِيْكُ ပိုင်ဆိုင်မှုကို ဖော်ပြရန်အတွက် ဥပမာ- اَلْمَالُ لِزَيْدٍ ဥစ္စာပစ္စည်းသည် ဇိုက်ဒ် **'၏ဟာ'** ဖြစ်သည်။

(၃) اَلزِّيَادَةُ ဝါကျတွင် အပိုထည့်သုံးရန် ဥပမာ- رَدِفَ لَكُمْ အသင်တို့နောက်ကပ်လျှက်လိုက်ခဲ့သည်။(ဥပမာတွင် اَللَّامُ သည် အပိုဖြစ်သောကြောင့် မည်သည့်အဓိပ္ပါယ်မျှမပေးပါ။)

(၄) اَلتَّعْلِيْلُ အကြောင်းပြချက်ကို ဖော်ပြရန် ဥပမာ- جِئْتُكَ لِإِكْرَامِكَ အသင့်အားဂုဏ်ပြု **'ရန်အတွက်'** ကျွန်တော် အသင့်ထံ ရောက်ရှိလာတာပါ။

(၅) اَلْقَسَمُ ကျိန်ဆိုသည့် အဓိပ္ပါယ်ပေးရန် ဥပမာ- لِلّٰهِ لَا يُؤَخَّرُ الْأَجَلُ အလ္လာဟ်အရှင်မြတ်ကို တိုင်တည်**'ကျိန်ဆိုပါတယ်'**။ (သေခြင်းတရားဟာ) သတ် မှတ်ထားတဲ့ အချိန်ထက် နောက်ကျမှာမဟုတ်ဘူး။

(၆) اَلْمُعَاقَبَةُ နိဂုံးကိုဖော်ပြရန် ဥပမာ- لَزِمَ الشَّرُّ لِلشَّقَاوَةِ နဖူးစာဆိုးခြင်းရဲ့ **'နိဂုံး'** အဖြစ် ဆိုးရွားမှုကြီးဟာ သေချာသွားခဲ့ပြီ။

## مِنْ ။၃

၎င်းသည် အဓိပ္ပါယ် (၄) မျိုးအတွက် အသုံးပြုသည်။





ခြွင်းချက်မဲ့သော အဆိုဖြစ်သည်။ اَلْكُوْفِيُّوْنَ တို့၏ (فِعْلٌ က أَصْلٌ ဖြစ်သည်။)ဟူသော အဆိုသည် اَلتَّعْلِيْلُ (အပြောင်းအလဲဖြစ်ခြင်း) ရှုထောင့်တစ်ခုတည်းမှ ကြည့်ပြီးတင်ပြထားခြင်းဖြစ်သည်။ ထို့ကြောင့် ဤအထောက်အထားဖြင့် فِعْلٌ သည် أَصْلٌ ဖြစ်ကြောင်း ယတိပြတ်မဆိုနိုင်ချေ။ အကယ်၍ထိုအဆိုမှန်သည်ပဲ ထားကြဦးစို့. . . يَعِدُ ، أَكْرَمَ စသည့် فِعْلٌ တစ်ခုခုကို أَصْلٌ ဟုသတ်မှတ်ပြီး ကျန် فِعْلٌ များ၊ صِيْغَةٌ များကို فَرْعٌ ဟု ပြောရပေတော့မည်။ ထိုအချက်သည် မည်သူကမျှ လက်မခံသော အချက်ဖြစ်သည်။

اَلْمَصْدَرُ သည် မိမိ၏ فِعْلٌ ကဲ့သို့ عَمَلٌ လုပ်မည်။ ထို့ကြောင့် اَلْفِعْلُ اللَّازِمُ ၏ مَصْدَرٌ သည် فَاعِلٌ ကိုသာ رَفْعٌ ပေးမည်။ ဥပမာ- أَعْجَبَنِيْ قِيَامُ زَيْدٍ ဇိုက်ဒ်ရဲ့ ရပ်ခြင်းသည် ကျွန်ုပ်ကို နှစ်သက်စေခဲ့သည်။ အကယ်၍ اَلْفِعْلُ الْمُتَعَدِّيْ ၏ مَصْدَرٌ ဖြစ်ပါမူ فَاعِلٌ ကို رَفْعٌ ပေးရုံမက مَفْعُوْلٌ ကိုပါ نَصْبٌ ပေးမည်။ ဥပမာ- أَعْجَبَنِيْ ضَرْبُ زَيْدٍ عَمْرًا ဇိုက်ဒ်က အမ်ရ်အား ရိုက်လိုက်ခြင်းသည် ကျွန်ုပ်ကို နှစ်သက်စေခဲ့သည်။

**မှတ်ချက်။** ။ ဖော်ပြပါ ပမာနှစ်ခုစလုံးတွင် زَيْدٌ သည် لَفْظًا စကားလုံးအရ اَلْمَصْدَرُ ၏ إِضَافَةٌ ကြောင့် مَجْرُوْرٌ ဖြစ်နေသော်လည်း အဓိပ္ပါယ်အရ فَاعِلٌ ဖြစ်သောကြောင့် مَرْفُوْعٌ ဖြစ်သည်။



اَلْمَصْدَرُ ။၂

၎င်းသည် فِعْلٌ ခွဲထွက်ရာ နေရာဖြစ်သော حَدَثٌ အဖြစ်အပျက်ကို ရည်ညွှန်းသည့် اِسْمٌ ဖြစ်သည်။ ၎င်းကို اَلْمَصْدَرُ ဟုခေါ်ရခြင်းမှာ فِعْلٌ သည် ၎င်းထံမှ اَلصُّدُوْرُ (ခွဲထွက်လာခြင်း)ကြောင့်ဖြစ်သည်။

**မှတ်ချက်။** ။ اَلْبَصْرِيُّوْنَ ဘဆွရာမြို့ရှိ ပညာရှင်များက اَلْمَصْدَرُ သည် أَصْلٌ ပင်မဖြစ်ပြီး فِعْلٌ သည် فَرْعٌ အခွဲဖြစ်သည်။အကြောင်းမှာ اَلْمَصْدَرُ သည် فِعْلٌ ၏အကူအညီမလိုဘဲ ပင်ကိုယ် ရပ်တည်နိုင်ပြီး فِعْلٌ ကမူ اِسْمٌ မပါဘဲ ရပ်တည်နိုင်စွမ်းမရှိသောကြောင့် ဖြစ်သည်။ ဟုဆိုကြသည်။

اَلْكُوْفِيُّوْنَ ကူဖာမြို့ရှိ ပညာရှင်များက فِعْلٌ သည် أَصْلٌ ပင်မ' ဖြစ်ပြီး اَلْمَصْدَرُ သည် فَرْعٌ အခွဲဖြစ်သည်။ အကြောင်းမှာ اَلْمَصْدَرُ က اَلتَّعْلِيْلُ (အက္ခရာအပြောင်းအလဲ)ဖြစ်လျှင် فِعْلٌ ကပါ လိုက်ပြောင်းရသည်။ ထို့အတူ فِعْلٌ က اَلصَّحِيْحُ (အပြောင်းအလဲမရှိဘဲ)သုံးစွဲပါက اَلْمَصْدَرُ တွင်ပါ ထိုပုံစံ လိုက်သုံးရသည်။ ဥပမာ- فِعْلٌ တွင် قَوَمَ မှ قَامَ ဟုအပြောင်းအလဲဖြစ်ရခြင်းကြောင့် اَلْمَصْدَرُ တွင်လည်း قِوَامٌ မှ قِيَامٌ ဟုလိုက်ပြောင်းပေးရသည်။ ထို့အတူ فِعْلٌ တွင် قَاوَمَ ဟု အပြောင်းအလဲမရှိဘဲ သုံးစွဲသည့်အတွက်ကြောင့် اَلْمَصْدَرُ တွင်လည်း قِوَامٌ ဟုအပြောင်းအလဲမရှိဘဲ သုံးစွဲရသည်။ ဟုဆိုကြသည်။

ဖော်ပြပါအဆိုနှစ်ရပ်ကို သုံးသပ်ကြည့်သော် اَلْبَصْرِيُّوْنَ တို့၏ (اَلْمَصْدَرُ သည် أَصْلٌ ဖြစ်သည်။)ဟူသောအဆိုသည်





(၁) اِبْتِدَاءُ الْغَايَةِ အလုပ်၏အစကို ဖော်ပြရန်

(က) နေရာကိုသော်လည်းကောင်း ဥပမာ- سِرْتُ مِنَ الْبَصَرَةِ إِلَى الْكُوْفَةِ ကျွန်တော်သည် ဘဆွရာမြို့ 'မှ' ကူဖာမြို့အထိ သွားခဲ့သည်။

(ခ) အချိန်ကိုသော်လည်းကောင်း ဥပမာ- مَارَأَيْتُ زَيْدًا مِنْ يَوْمِ الْجُمُعَةِ إِلَى الْآنَ ကျွန်တော်သည် ဇိုက်ဒ်ကို သောကြာနေ့ 'မှစပြီး' ယနေ့တိုင်မတွေ့ခဲ့ပါ။

(၂) اَلتَّبْعِيْضُ အချို့ဟူသော အဓိပ္ပါယ်ပေးရန် ဥပမာ- أَخَذْتُ مِنَ الدَّرَاهِمِ ကျွန်တော် ငွေဒင်္ဂါး 'အချို့' ယူခဲ့သည်။

(၃) اَلتَّبْيِيْنُ ရှင်းလင်းတင်ပြရန် ဥပမာ- فَاجْتَنِبُوا الرِّجْسَ مِنَ الْأَوْثَانِ သို့ရှိရာ အသင်တို့သည် ရုပ်ထုများ 'တည်းဟူသော'အညစ်အကြေးများကိုရှောင်ကြဉ်ကြလေကုန်။

(၄) اَلزِّيَادَةُ ဝါကျတွင် အပိုထည့်သုံးရန် ဥပမာ- يَغْفِرْلَكُمْ مِنْ ذُنُوْبِكُمْ ထိုအရှင်မြတ်သည် အသင်တို့၏ အပြစ်များကို ခွင့်လွှတ်မည်။ (ဥပမာတွင် مِنْ သည်အပိုဖြစ်သောကြောင့် اَلنَّحْوُ အရမည်သည့်အဓိပ္ပါယ်မျှမပေးပါ။)

إِلَى ။၄

၎င်းသည် အဓိပ္ပါယ် (၂)မျိုးအတွက် သုံးသည်။

(၁) اِنْتِهَاءُ الْغَايَةِ အလုပ်၏ အဆုံးသတ်နေရာကို ဖော်ပြရန် ဥပမာ- سِرْتُ مِنَ الْبَصَرَةِ إِلَى الْكُوْفَةِ ကျွန်တော်သည် ဘဆွရာမြို့မှ ကူဖာမြို့'သို့'သွားခဲ့သည်။

(၂) اَلْمُصَاحَبَةُ အတူတကွဖြစ်မှုကို ဖော်ပြရန် ဥပမာ- وَلَاتَأْكُلُوْا أَمْوَالَهُمْ إِلَى أَمْوَالِكُمْ အသင်တို့သည် ၎င်း(ဖမဲ့ကလေးငယ်တို့၏)ဥစ္စာပစ္စည်းများကို

အသင်တို့၏ ဥစ္စာပစ္စည်းများ **'နှင့်အတူ'** မစားသောက်ကြကုန်နှင့်။

**မှတ်ချက်။** ။ إِلَى ၏နောက်တွင်ရှိသောအရာသည် إِلَى ၏ရှေ့တွင်ရှိသော အရာ၏ အမျိုးအစားထဲမှ ဖြစ်ပါက အမိန့်ထဲတွင်အကျုံးဝင်မည်။ ဥပမာ- فَاغْسِلُوا وُجُوهَكُمْ وَأَيْدِيَكُمْ إِلَى الْمَرَافِقِ သို့ရှိရာ အသင်တို့သည် အသင်တို့၏မျက်နှာကိုလည်းကောင်း၊ လက်များကို တံတောင်ဆစ်(အပါအဝင်) အထိလည်းကောင်း ဆေးကြောကြလေကုန်။

إِلَى ၏နောက်တွင်ရှိသောအရာသည် إِلَى ၏ရှေ့တွင်ရှိသော အရာ၏ အမျိုးအစားထဲတွင် မပါဝင်ပါက အမိန့်ထဲတွင် အကျုံးမဝင်ပါ။ ဥပမာ- ثُمَّ أَتِمُّوا الصِّيَامَ إِلَى اللَّيْلِ တဖန် အသင်တို့သည် ညအထိ ဥပုသ်ကို အပြည့်ထားကြလေကုန်။

၅။ حَتَّى

၎င်းသည် အဓိပ္ပါယ် (၂)မျိုးအတွက် အသုံးပြုသည်။

(၁) အလုပ်၏အဆုံးကိုဖော်ပြရန်

(က) အချိန်ကာလကိုလည်းကောင်း ဥပမာ- نِمْتُ الْبَارِحَةَ حَتَّى الصَّبَاحِ ကျွန်တော်သည် မနေ့ညက မနက် **'အထိ'** အိပ်ခဲ့သည်။

(ခ) နေရာကိုလည်းကောင်း ဥပမာ- سِرْتُ الْبَلَدَ حَتَّى السُّوقِ ကျွန်တော်သည် မြို့ကို ဈေး **'အထိ'** သွားခဲ့သည်။

(၂) الْمُصَاحَبَةُ အတူတကွဖြစ်မှုကို ဖော်ပြရန် ဥပမာ- قَرَأْتُ وِرْدِي حَتَّى الدُّعَاءِ ကျွန်တော်သည် ကျွန်တော်၏ ဝဇီဖဟ်ကို ဒိုအာ **'နှင့်တကွ'** ဖတ်ခဲ့သည်။

**မှတ်ချက်။** ။ တစ်ခါတစ်ရံ حَتَّى ၏နောက်တွင်ရှိသောအရာသည် حَتَّى ၏






## (٢) اَلْعَوَامِلُ اللَّفْظِيَّةُ الْقِيَاسِيَّةُ

### (၂) ' စကားလုံးအရ عَمَلٌ လုပ်ပြီး ပုံသေနည်းရှိသော عَامِلٌ များ'

اَلسَّمَاعِيَّةُ အရဗ်တို့သုံးစွဲသည့်အတိုင်း တစ်သဝေမတိမ်းသုံးစွဲရသည့်ပုံစံမဟုတ်ဘဲ اَلْقِيَاسِيَّةُ ပုံသေနည်းရှိပြီး အခြားမျိုးတူများကို လည်းအသုံးပြုနိုင်သည့် عَامِلٌ များမှာ (၇)ခုရှိသည်။ ၁။ اَلْفِعْلُ ၂။ اَلْمَصْدَرُ ၃။ اِسْمُ الْفَاعِلِ ၄။ اِسْمُ الْمَفْعُولِ ၅။ اَلصِّفَةُ الْمُشَبَّهَةُ بِالْفِعْلِ ၆။ اَلْمُضَافُ ၇။ اَلْإِسْمُ التَّامُّ တို့ဖြစ်သည်။

### ၁။ اَلْفِعْلُ

فِعْلٌ ကြိယာအားလုံးသည် ခြွင်းချက်မဲ့ عَمَلٌ လုပ်မည်။ لَازِمٌ ကံမလိုကြိယာဖြစ်စေ၊ مُتَعَدٍّ ကံလိုကြိယာဖြစ်စေ၊ اَلْمَاضِي ဖြစ်စေ၊ اَلْمُضَارِعُ ဖြစ်စေ၊ اَلْأَمْرُ ဖြစ်စေ၊ اَلنَّهْيُ ဖြစ်စေ فِعْلٌ တိုင်းသည် فَاعِلٌ ကို رَفْعٌ ပေးသည်။ ဥပမာ- قَامَ زَيْدٌ ဇိုက်ဒ်ရပ်ခဲ့သည်။ ضَرَبَ زَيْدٌ ဇိုက်ဒ် ရိုက်ခဲ့သည်။

အကယ်၍ مُتَعَدٍّ ဖြစ်လျှင် (فَاعِلٌ ကို رَفْعٌ ပေးသည့်အပြင်) مَفْعُولٌ ကိုပါ نَصَبٌ ပေးမည်။ ဥပမာ- ضَرَبَ زَيْدٌ عَمْرًا ဇိုက်ဒ်သည် အမ်ရ်ကို ရိုက်ခဲ့၏။

فَاعِلٌ သည် فِعْلٌ ထက်အလျှင်မလာပိုင်သော်လည်း مَفْعُولٌ သည် လာနိုင်၏။ ဥပမာ- عَمْرًا ضَرَبَ زَيْدٌ အမ်ရ်ကို ဇိုက်ဒ်သည် ရိုက်ခဲ့သည်။ ထို့အတူ فَاعِلٌ ကို ဖြုတ်ချခြင်း မပိုင်သော်လည်း مَفْعُولٌ ကိုမူ ဖြုတ်ချခြင်း ပိုင်၏။ ဥပမာ- ضَرَبَ زَيْدٌ ဇိုက်ဒ် ရိုက်ခဲ့သည်။

ဤအခြေအနေများတွင် عَمَلٌ လုပ်ခြင်းနှင့် မလုပ်ခြင်းသည် အတူတူပင်ဖြစ်သည်။ သို့သော် အချို့ပညာရှင်များက အလယ်တွင်ရှိသည့်ပုံစံတွင် عَمَلٌ လုပ်ခြင်းသည် ပိုကောင်းပြီး နောက်ဆုံးတွင်ရှိသည့်ပုံစံတွင် عَـمَـلٌ မလုပ်ခြင်းသည် ပိုကောင်းသည် ဟုဆိုကြသည်။

عَلِمَ နှင့် رَأَى တို့၏ အစတွင် (هَمْزَةٌ) أ တိုးပေးပါက مَفْعُوْلٌ (၃)ခုလိုအပ်သွားပေမည်။ ဥပမာ- أَعْـلَـمْـتُ زَيْدًا عَمْرًا فَاضِلًا အမ်ရ်သည် ဂုဏ်ရှိသူဖြစ်ကြောင်း ကျွန်ုပ်သည် ဇိုက်ဒ်ကို **'အသိပေး'** ခဲ့သည်။ أَرَيْـتُ عَـمْـرًا خَـالِدًا عَالِمًا ခါလစ်ဒ်သည် ပညာရှင်ဖြစ်ကြောင်း ကျွန်ုပ်သည် အမ်ရ်ကို **'သိမြင်စေ'** ခဲ့သည်။ ၎င်းတို့ထဲတွင် (هَـمْزَةٌ) أ တိုးလာခြင်းကြောင့် مَـفْعُوْلٌ တစ်ခုပါ တိုးလာခဲ့သည်။ အကြောင်းမှာ (هَـمْزَةٌ) أ သည် اَلتَّصْيِيْرُ 'ဖြစ်/ပြောင်းစေသည်' ဟူ၍ အဓိပ္ပါယ်ပေးသည့် အတွက်ကြောင့် ဖြစ်သည်။

ထိုသို့ (هَـمْـزَةٌ) أ တိုးသည့် ကိစ္စသည် ဖော်ပြပါ فِـعْلٌ နှစ်ခုအတွက်သာ သီးသန့်ဖြစ်သည်။ ဤသည် အရဗ်လူမျိုးတို့၏ အသုံးအနှုန်းအပေါ် အခြေခံ၍ သတ်မှတ်ထားခြင်းဖြစ်သည်။ သို့သော် اَلْإِمَـامُ الْأَخْفَشُ က ကျန် فِعْلٌ များတွင်လည်း ဖော်ပြပါ فِعْلٌ နှစ်လုံးကဲ့သို့ပင် (هَمْزَةٌ) أ ဝင်ရောက်နိုင်သည်ဟု ဖော်ပြခဲ့သည်။ ဥပမာ- أَزْعَمْتُ / أَوْجَدْتُ / أَخَلْتُ / أَحْسَبْتُ / أَظْنَنْتُ زَيْدًا عَمْرًا فَاضِلًا

أَفْعَالُ الْقُلُوْبِ ) တွင် မပါ أَخْبَرَ ، خَبَّرَ، أَنْبَأَ ، نَبَّأَ စသည့် فِعْلٌ များသည် ( သော်လည်း) مَفْعُوْلٌ (၃)ခုလို သော فِعْلٌ များဖြစ်ကြသည်။

**မှတ်ချက်။** ။ ဖော်ပြပါ مَفْعُوْلٌ သုံးခုအနက်မှ တစ်ခုခုကို ဖြုတ်ချခြင်း လုံးဝမပိုင်ပါ။ သို့သော် နောက် مَفْعُوْلٌ နှစ်ခုကို တစ်ပြိုင်တည်း ဖြုတ်ချပါက ပိုင်သည်။





أَكَـلْـتُ السَّـمَـكَةَ حَتّٰى ရှေ့တွင်ရှိသောအရာ၏ အမိန့်တွင်ပါဝင်မည်။ ဥပမာ- رَأْسِهَا ကျွန်တော်သည် ငါးကို ခေါင်းအပါအဝင် စားခဲ့သည်။

တစ်ခါတစ်ရံ حَتّٰى ၏နောက်တွင် ရှိသောအရာသည် حَتّٰى ၏ရှေ့တွင်ရှိသောအရာ၏ အမိန့်တွင် အကျုံးမဝင်ပါ။ ဥပမာကို ရှေ့တွင်ဖော်ပြခဲ့ပြီးဖြစ်သည်။

حَتّٰى သည် اَلْإِسْمُ الظَّاهِرُ ခေါ် ထင်ရှားသောနာမ်တွင်သာ ဝင်ရောက်မည်။ (ضَـمِيْرٌ နာမ်စားတွင် မဝင်ပါ။) သို့သော် إِلٰى သည်နှစ်မျိုးစလုံးတွင် ဝင်ရောက်နိုင်သည်။ ထို့ကြောင့် إِلَيْهِ ဟုသုံးနိုင်သော်လည်း حَتَّاهُ ဟုမသုံးရပါ။



### ၆။ عَلٰى

၎င်းသည် အဓိပ္ပါယ် (၃)မျိုးအတွက် အသုံးပြုသည်။

(၁) اَلْإِسْتِعْلَاءُ မြင့်မားမှုကို ဖော်ပြရန်

(က) ဓမ္မစစ်သဘောအရသော်လည်းကောင်း ဥပမာ- زَيْدٌ عَلَى السَّقْفِ ဇိုက်ဒ်သည် ခေါင်မိုး **'ပေါ်တွင်'** ရှိနေသည်။

(ခ) သဘောတရားအရလည်းကောင်း ဥပမာ- عَلَيْهِ دَيْنٌ သူ့ **'အပေါ်'** အကြွေးတင်နေသည်။

(၂) اَلْبَاءُ ၏ အဓိပ္ပါယ်လည်းပေးသည်။ ဥပမာ- مَرَرْتُ عَلَيْهِ ကျွန်တော်သည်သူ့ **'အနီးမှ'** ဖြတ်သွားခဲ့သည်။

(၃) فِيْ ၏ အဓိပ္ပါယ်လည်းပေးသည်။ ဥပမာ- إِنْ كُنْتُمْ عَلٰى سَفَرٍ အသင်တို့သည် ခရီး **'၌'** ရှိနေလျှင်

7

## ၇။ عَنْ

၎င်းသည် اَلْبُعْدُ وَالْمُجَاوَزَةُ ဖြတ်ကျော်ဝေးကွာသွားမှု၏ အဓိပ္ပါယ်ပေးသည်။ ဥပမာ- رَمَيْتُ السَّهْمَ عَنِ الْقَوْسِ ကျွန်တော်သည် မြားတံကို လေးကိုင်း **'မှ'** ပစ်လွှတ်ခဲ့သည်။

8

## ၈။ فِيْ

၎င်းသည် အဓိပ္ပါယ် (၂)မျိုးအတွက် အသုံးပြုသည်။

(၁) اَلظَّرْفِيَّةُ နေရာကို ဖော်ပြရန်အတွက်

(က) ဓမ္မစစ်သဘောအရလည်းကောင်း ဥပမာ- اَلْمَالُ فِي الْكِيْسِ ငွေသည် အိတ် **'ထဲတွင်'** ရှိသည်။

(ခ) သဘောတရားအရလည်းကောင်း ဥပမာ- نَظَرْتُ فِى الْكِتَابِ ကျွန်တော်သည် စာအုပ် **'၌'** ကြည့်ခဲ့သည်။

(၂) اَلْإِسْتِعْلَاءُ မြင့်မားမှုကို ဖော်ပြရန် ဥပမာ- وَلَأُصَلِّبَنَّكُمْ فِيْ جُزُوْعِ النَّخْلِ ငါသည် အသင်တို့ကို စွံပလွံပင်စည်များ **'ထက်၌'** ကားစင်တင်မည်။

9

## ၉။ اَلْكَافُ

၎င်းသည် အဓိပ္ပါယ် (၃)မျိုးအတွက်အသုံးပြုသည်။

(၁) اَلتَّشْبِيْهُ တူဆင်မှုကို ဖော်ပြရန် ဥပမာ- زَيْدٌ كَالْأَسَدِ ဇိုက်သည် ခြင်္သေ့ **'ကဲ့သို့'** ဖြစ်သည်။

(၂) اَلزِّيَادَةُ ဝါကျတွင် အပိုထည့်သုံးရန် ဥပမာ- لَيْسَ كَمِثْلِهِ شَيْءٌ ထိုအရှင်နှင့်တူနိုင်းစရာ မည်သည့်အရာမျှမရှိပါ။ (ဥပမာတွင် اَلْكَافُ သည် အပိုဖြစ်သောကြောင့် اَلنَّحْوُ ရှုထောင့်အရ မည်သည့်အဓိပ္ပါယ်မျှမပေးပါ။)

(၃) مَعْنَى الْإِسْمِ နာမ်၏ အဓိပ္ပါယ်ပေးရန် ဥပမာ- يَضْحَكْنَ عَنْ كَالْبَرَدِ الْمُنْهَمِّ





91

**မှတ်ချက်(၃)။** ။ وَجَدَ သည် أَصَابَ ရရှိခြင်း၏ အဓိပ္ပါယ်ပေးလျှင် ဒုတိယ مَفْعُوْلٌ မလိုအပ်တော့ပေ။ ဥပမာ- وَجَدْتُ الضَّالَّةَ ကျွန်ုပ် ပျောက်ဆုံးသွားသောပစ္စည်းကို **'ရရှိ'** ခဲ့သည်။

အဓိပ္ပါယ်နှစ်မျိုးစလုံးအတွက် အသုံးပြုသော နောက်ဆုံးတစ်လုံးမှာ. . . زَعَمَ ဖြစ်သည်။ ဥပမာ- زَعَمْتُ اللّٰهَ غَفُوْرًا (لِلْيَقِيْنِ) အလ္လာဟ်အရှင်မြတ်သည် အလွန်တရာခွင့်လွှတ်တော်မူသောအရှင်ဖြစ်ကြောင်း ကျွန်ုပ် **'ယုံကြည်'** ပါသည်။ زَعَمْتُ الشَّيْطَانَ شَكُوْرًا (لِلشَّكِّ) ရှိုင်သွာန် မိစ္ဆာကောင်သည် ကျေးဇူးသိတတ်သူဖြစ်ကြောင်း ကျွန်တော် **'သံသယ'** ရှိသည်။

ဖော်ပြပါ فِعْلٌ များသည် ၎င်းတို့၏ مَفْعُوْلٌ နှစ်ခုအနက် တစ်ခုကိုဖြုတ်ချခြင်း မပိုင်ပါ။ အကြောင်းမှာ مَفْعُوْلٌ နှစ်ခုသည် အဓိပ္ပါယ်အရ مَفْعُوْلٌ بِهٖ တစ်ခုတည်းသာဖြစ်သောကြောင့် ၎င်းတို့နှစ်ခုသည် اِسْمٌ တစ်ခုတည်းကဲ့သို့ ဖြစ်သွားသည်။ အဓိပ္ပါယ်အရ ဒုတိယ مَفْعُوْلٌ ၏ مَصْدَرٌ သည် ပထမ مَفْعُوْلٌ ၌ ဖြစ်နေသည့် ပုံစံမျိုးဖြစ်သည်။ ထို့ကြောင့် عَلِمْتُ زَيْدًا فَاضِلًا ၏ اِضَافَةٌ အဓိပ္ပါယ်သည် عَلِمْتُ فَضْلَ زَيْدٍ ဖြစ်သည်။ ထို့ကြောင့် مَفْعُوْلٌ နှစ်ခုအနက်မှ တစ်ခုကို ဖြုတ်ချခြင်းသည် كَلِمَةٌ စကားလုံးတစ်ခုတည်းမှ အချို့အစိတ်အပိုင်းကို ဖြုတ်ချခြင်းနှင့် တူသည်။

ဤ فِعْلٌ များသည် မိမိတို့၏ مَفْعُوْلٌ နှစ်ခုကြားတွင် ကျရောက်သည့်အခါ (သို့မဟုတ်) နောက်တွင်ကျရောက်သည့်အခါ عَمَلٌ မလုပ်ခြင်းပိုင်သည်။ ဥပမာ- (اَلتَّوَسُّطُ) زَيْدٌ ظَنَنْتُ قَائِمٌ / زَيْدًا ظَنَنْتُ قَائِمًا.

(اَلتَّأَخُّرُ) زَيْدٌ قَائِمٌ ظَنَنْتُ / زَيْدًا قَائِمًا ظَنَنْتُ.

86 ၂။ ظَنَّ ဥပမာ- ظَنَنْتُ بَكْرًانَائِمًا ဘက်ရ်သည် အိပ်ပျော်နေသည်ဟု ကျွန်တော် 'ထင်' သည်။

87 ၃။ خَالَ ဥပမာ- خِلْتُ خَالِدًا قَائِمًا ခါလစ်ဒ်သည် ရပ်နေသည်ဟု ကျွန်တော် 'ထင်' သည်။

**မှတ်ချက်။** ။ ظَنَّ သည် اَلظِّنَّةُ စွပ်စွဲခြင်း၏ အဓိပ္ပါယ်ဖြင့်သုံးလျှင် ဒုတိယ مَفْعُوْلٌ ကို မလိုအပ်တော့ပေ။ ဥပမာ- ظَنَنْتُ زَيْدًا ကျွန်ုပ် ဇိုက်ဒ်ကို 'စွပ်စွဲ' ခဲ့သည်။

اَلْيَقِيْنُ ယုံကြည်မှုအတွက် သုံးစွဲသော (၃)လုံးမှာ. . .

88 ၁။ عَلِمَ ဥပမာ- عَلِمْتُ زَيْدًا أَمِيْنًا ဇိုက်ဒ်သည် သမာဓိရှင်ဖြစ်သည်ဟု ကျွန်ုပ် 'သိ' သည်။

89 ၂။ رَأَى ဥပမာ- رَأَيْتُ عَمْرًا فَاضِلاً အမ်ရ်သည် ပညာရှင်ဖြစ်သည်ဟု ကျွန်ုပ် 'မြင်' သည်။

90 ၃။ وَجَدَ ဥပမာ- وَجَدْتُ الْبَيْتَ رَهِيْنًا အိမ်ကို အာမခံဖြင့်ထားပြီးသားအဖြစ် ကျွန်ုပ် 'တွေ့ရ' သည်။

**မှတ်ချက်(၁)။** ။ عَلِمَ သည် عَرَفَ သိကျွမ်းခြင်း၏ အဓိပ္ပါယ်ဖြင့်သုံးလျှင် ဒုတိယ مَفْعُوْلٌ မလိုအပ်တော့ပေ။ ဥပမာ- عَلِمْتُ زَيْدًا ကျွန်ုပ်သည် ဇိုက်ဒ်ကို 'သိကျွမ်း'သည်။

**မှတ်ချက်(၂)။** ။ رَأَى သည် أَبْصَرَ တွေ့မြင်ခြင်း၏ အဓိပ္ပါယ်ဖြင့်သုံးလျှင် ဒုတိယ مَفْعُوْلٌ မလိုအပ်တော့ပေ။ ဥပမာ- فَانْظُرْ مَاذَاتَرَى အသင်ဘာ 'တွေ့မြင်' သလဲဆိုတာ ကြည့်လိုက်ပါ။





တဖွဲဖွဲကျနေသော နှင်းခဲများ 'ပမာ' သူမတို့ ရယ်ကြလေသည်။ (ဥပမာတွင် اَلْكَافُ သည် مِثْلٌ ၏ အဓိပ္ပါယ်ပေးသည်။ အကြောင်းမှာ عَنْ ၏နောက်တွင် اَلْكَافُ လာသောကြောင့်ဖြစ်သည် عَنْ သည် حَرْفٌ တွင် မဝင်ပါ။ ထို့ကြောင့် اَلْكَافُ သည် مِثْلٌ ၏ အစားထိုးဝင်ရောက်ခြင်းဖြစ်သည်။)

10 ၁၀။ مُذْ ၁၁။ مُنْذُ 11

၎င်းတို့သည် အဓိပ္ပါယ်(၂) မျိုးအတွက် အသုံးပြုသည်။

(၁) အတိတ်အချိန်ကာလတစ်ခု၏ အစကို ဖော်ပြရန် ဥပမာ- مَارَأَيْتُهُ مُذْ/مُنْذُ يَوْمِ الْجُمُعَةِ ကျွန်တော်သူ့ကို သောကြာနေ့ 'ကတည်းက' မတွေ့ဘူး။

(၂) အချိန်ကာလတစ်ခုလုံး၏ အဓိပ္ပါယ်ကို ဖော်ညွှန်းရန် ဥပမာ- مَارَأَيْتُهُ مُذْ/مُنْذُ يَوْمَيْنِ ကျွန်တော်သူ့ကို နှစ်ရက် 'လုံးလုံး' မတွေ့ဘူး။

12 ၁၂။ رُبَّ

၎င်းကို အဓိပ္ပါယ် (၂)မျိုးအတွက် အသုံးပြုသည်။

(၁) اَلتَّقْلِيْلُ နည်းပါးမှုကို ဖော်ပြရန် ဥပမာ- رُبَّ رَجُلٍ كَرِيْمٍ لَقِيْتُهُ ကောင်းမြတ်သည့်ယောကျ်ား 'အနည်းအကျဉ်း' ကိုသာ ကျွန်တော်တွေ့ခဲ့ဖူးသည်။

(၂) اَلتَّكْثِيْرُ များပြားမှုကို ဖော်ပြရန် ဥပမာ- رُبَّ مَالٍ صَرَفْتُهُ ကျွန်တော်ငွေ 'အများအပြား' သုံးစွဲခဲ့သည်။

**မှတ်ချက်။** ။ رُبَّ သည် (၁) ဝါကျ၏ အစတွင်လာမည်။ (၂) ၎င်း၏ مُتَعَلِّقٌ نَكِرَةٌ مَوْصُوْفَةٌ သည် مَجْرُوْرٌ ဖြစ်ရမည်။ (၃) ၎င်း၏ သည် اَلْفِعْلُ الْمَاضِيْ ဖြစ်ရမည်။ တစ်ခါတစ်ရံ ၎င်းသည် اَلضَّمِيْرُ الْمُبْهَمُ မတိကျသော နာမ်စား တွင်ဝင်မည်။

ထိုအခါ ယင်းနာမ်စားကို ရှင်းပြသော تَمْيِيزٌ သည် نَكِرَةٌ مَوْصُوفَةٌ ဖြစ်ရမည်။ ဥပမာ- رُبَّهُ رَجُلًا جَوَادًا لَقِيتُهُ ကျွန်တော်တွေ့ဆုံခဲ့ဖူးသော ရက်ရောသည့် ယောကျ်ားသည် နည်းပါးလှသည်။

13

وَاوُ الْقَسَمِ ၁၃။

ငင်းသည် ကျိန်ဆိုမှု၏ အဓိပ္ပါယ်ပေးသည်။ ငင်းသည် اِسْمٌ ظَاهِرٌ ထင်ရှားသောနာမ် တွင်သာ ဝင်ရောက်မည်ဖြစ်ပြီး ضَمِيرٌ နာမ်စားတွင် မဝင်ရောက်ပါ။ ဥပမာ- وَاللّٰهِ لَأَشْرَبَنَّ اللَّبَنَ အလ္လာဟ်အရှင်မြတ်ကို တိုင်တည် ကျိန်ဆိုပါသည်။ မုချ ကျွန်တော် နို့သောက်မည်။

တစ်ခါတစ်ရံ ငင်းသည် رُبَّ ၏ အဓိပ္ပါယ်နှင့် အသုံးပြုသည်။ ဥပမာ- وَعَالِمٍ يَعْمَلُ بِعِلْمِهِ မိမိတတ်သိထားသော ပညာကို လက်တွေ့ကျင့်သုံးသော ပညာရှင် 'နည်းပါး' သည်။

14

تَاءُ الْقَسَمِ ၁၄။

ငင်းသည်လည်း ကျိန်ဆိုမှု၏ အဓိပ္ပါယ်ကိုပေးပြီး အလ္လာဟ်အရှင်မြတ်၏ နာမတော်တွင်သာ ဝင်ရောက်မည်။ ဥပမာ- تَاللّٰهِ لَأَضْرِبَنَّ زَيْدًا အလ္လာဟ်အရှင်မြတ်ကို တိုင်တည် ကျိန်ဆိုပါသည်။ မုချကျွန်တော်သည် ဇိုက်ဒ်ကို ရိုက်မည်။

**မှတ်ချက်(၁)။** ။ قَسَمٌ ကျိန်ဆိုမှုတွင် جَوَابٌ အဖြေရှိရန်အရေးကြီးသည်။ ငင်း၏ အသုံးပြုပုံမှာ. . .

(၁) جَوَابٌ သည် جُمْلَةٌ اِسْمِيَّةٌ နာမ်ဖြင့်စသော ဝါကျဖြစ်လျှင် အခြေအနေနှစ်မျိုးရှိသည်။





**မှတ်ချက်။** ။ ဖော်ပြပါ فِعْلٌ အားလုံးသည် ငင်းတို့တွင် تَاءُ التَّأْنِيثِ السَّاكِنَةِ ဝင်ရောက်ရုံမှတပါး အခြားပုံစံပြောင်းလဲမှုများ ပြုလုပ်၍မရပါ။ ထို့ကြောင့် ငင်း တို့ကို اَلْأَفْعَالُ غَيْرُ الْمُتَصَرِّفَةِ ပုံစံအပြည့်အစုံ ပြောင်းလဲ၍ မရသော ကြိယာများ ဟုခေါ်သည်။

## اَلنَّوْعُ الثَّالِثَ عَشَرَ

## 'တေရသ အမျိုးအစား'

أَفْعَالُ الْقُلُوبِ စိတ်နှလုံးနှင့်သာ သက်ဆိုင်သော ကြိယာများ။ ငင်းတို့ကို ထိုသို့အမည်ပေးရခြင်းမှာ ငင်းကြိယာများ၏ ထွက်ပေါ်ရာသည် ခန္ဓာကိုယ်အစိတ်အပိုင်းများမှမဟုတ်ဘဲ စိတ်နှလုံးဖြင့် ဆောင်ရွက်ရသည့် အလုပ်များဖြစ်သောကြောင့်ပင်။ ငင်းတို့ကို أَفْعَالُ الشَّكِّ وَالْيَقِينِ ယုံကြည်ခြင်းနှင့် သံသယဖြစ်ခြင်း၏ ကြိယာများ ဟုလည်းခေါ်သည်။ အကြောင်းမှာ ငင်းတို့အနက်မှ အချို့ကို اَلشَّكُّ သံသယဖြစ်မှုကိုဖော်ပြရန်အတွက်သုံးပြီး အချို့ကို اَلْيَقِينُ ယုံကြည်မှုကို ဖော်ပြရန်အတွက် အသုံးပြုသောကြောင့်ဖြစ်သည်။

ငင်းတို့သည် مُبْتَدَأٌ နှင့် خَبَرٌ တွင်ဝင်ရောက်ပြီး မိမိတို့၏ مَفْعُولٌ နှစ်ခုအဖြစ် نَصَبٌ ပေးမည်။ ငင်းတို့သည် (၇)လုံးရှိသည်။ (၃)လုံးမှာ اَلشَّكُّ သံသယဖြစ်မှုအတွက်သုံးသည်။ (၃)လုံးမှာ اَلْيَقِينُ ယုံကြည်မှုအတွက်ဖြစ်ပြီး ကျန်(၁)လုံးမှာ နှစ်မျိုးစလုံးအတွက် အသုံးပြုသည်။

اَلشَّكُّ သံသယဖြစ်မှုအတွက် သုံးသော (၃)လုံးမှာ. . .

၁။ حَسِبَ ဥပမာ- حَسِبْتُ زَيْدًا فَاضِلًا ဇိုက်ဒ်ဟာ ပါရဂူ တစ်ယောက်ဖြစ်တယ်လို့ ကျွန်တော် 'ထင်' တယ်။ 85

၄င်း၏မူရင်းသည် حَبُبَ ဖြစ်သည်။

၁။ حَبَّ ဖြစ်သွားပုံမှာ حَبُبَ ၏ပထမ ب ကို سُكُوْنٌ ပေးပြီး ဒုတိယ ب တွင် إِدْغَامٌ ပြုပေါင်းစပ်လိုက်သောကြောင့် حَبَّ ဖြစ်သွားသည်။

၂။ حُبَّ ဖြစ်သွားပုံမှာ حَبُبَ ၏ပထမ ب တွင်ရှိသော إِعْرَابٌ ကို ح တွင်တပ်လိုက်ပြီး ب နှစ်ခုကို إِدْغَامٌ ပြုပေါင်းစပ်လိုက်သောကြောင့် حُبَّ ဖြစ်သွားခဲ့လေသည်။

حَبَّ သည် သုံးစွဲရာတွင် ذَا နှင့်အမြဲတွဲ၍ အသုံးပြုရသည်။ ထို့ကြောင့် فِعْلٌ များရေတွက်ရာတွင် حَبَّذَا ဟု ရေတွက်ကြသည်။

၄င်းသည် نِعْمَ ကဲ့သို့ပင် ချီးမွမ်းရန်အတွက် အသုံးပြုသည်။ သို့သော် ၄င်း၏ فَاعِلٌ သည် ذَا ဖြစ်သည်။ ذَا ၏နောက်တွင်လာသော اِسْمٌ သည် ၄င်း၏ مَخْصُوْصٌ بِالْمَدْحِ ဖြစ်သည်။

၄င်း၏ مَخْصُوْصٌ ၏ إِعْرَابٌ မှာ نِعْمَ တို့၏ مَخْصُوْصٌ ၏ إِعْرَابٌ အတိုင်းပင်ဖြစ်သည်။ သို့သော် ၄င်း၏ فَاعِلٌ သည် مَخْصُوْصٌ နှင့် ကိုက်ညီရန်မလိုအပ်ပါ။ ဥပမာ- حَبَّذَا زَيْدٌ ، حَبَّذَا الزَّيْدَانِ ، حَبَّذَا الزَّيْدُوْنَ
حَبَّذَا هِنْدٌ ، حَبَّذَا الْهِنْدَانِ ، حَبَّذَا الْهِنْدَاتُ

مَخْصُوْصٌ ၏ အလျှင်(သို့မဟုတ်) နောက်တွင် ၄င်းနှင့်ကိုက်ညီသော اِسْمٌ တစ်ခုသည် تَمْيِيْزٌ အဖြစ် (သို့မဟုတ်) اَلْحَالُ အဖြစ် مَنْصُوْبٌ ဖြစ်လျှက်လာရှိနိုင်သည်။ ဥပမာ-

اَلتَّمْيِيْزُ الْمُقَدَّمُ : حَبَّذَا رَجُلًا زَيْدٌ
اَلتَّمْيِيْزُ الْمُؤَخَّرُ : حَبَّذَا زَيْدٌ رَجُلًا
اَلْحَالُ الْمُقَدَّمُ : حَبَّذَا رَاكِبًا زَيْدٌ
اَلْحَالُ الْمُؤَخَّرُ : حَبَّذَا زَيْدٌ رَاكِبًا






(က) مُثْبَتٌ ဖြစ်ခြင်းပြဝါကျဆိုလျှင် ၄င်း၏အစတွင် إِنَّ သို့မဟုတ် لَامُ الْاِبْتِدَاءِ ရှိရန် အရေးကြီးသည်။ ဥပမာ- وَاللّٰهِ إِنَّ زَيْدًا قَائِمٌ / لَزَيْدٌ قَائِمٌ အလ္လာဟ်အရှင်မြတ်ကို တိုင်တည် ကျိန်ဆိုပါသည်။ မုချဧကန်ဇိုက်ဒ် ရပ်နေ၏။

(ခ) مَنْفِيٌّ အငြင်းဝါကျဖြစ်လျှင် ၄င်း၏ အစတွင် مَا သို့မဟုတ် لَا သို့မဟုတ် إِنْ اَلنَّافِيَةُ ရှိရမည်။ ဥပမာ- وَاللّٰهِ لَازَيْدٌ فِي الدَّارِ အလ္လာဟ်အရှင်မြတ်ကို တိုင်တည် ကျိန်ဆိုပါသည်။ ဇိုက်ဒ်အိမ်ထဲမှာ မရှိပါ။ وَاللّٰه مَازَيْدٌ قَائِمًا/إِنْ زَيْدٌ قَائِمٌ အလ္လာဟ်အရှင်မြတ်ကို တိုင်တည် ကျိန်ဆိုပါသည်။ ဇိုက်ဒ် ရပ်မနေပါ။

(၂) جَوَابٌ သည် جُمْلَةٌ فِعْلِيَّةٌ ကြိယာဖြင့်စသော ဝါကျဖြစ်လျှင်အခြေအနေနှစ်မျိုးရှိသည်။

(က) مُثْبَتٌ ဖြစ်ခြင်းပြဝါကျဆိုလျှင် ၄င်း၏အစတွင် اَللَّامُ သို့မဟုတ် لَقَدْ ရှိရမည်။ ဥပမာ- وَاللّٰهِ لَقَدْ قَامَ زَيْدٌ /لَأَفْعَلَنَّ كَذَا အလ္လာဟ်အရှင်မြတ်ကို ကျိန်ဆိုပါသည်။ မုချဇိုက်ဒ်ရပ်ခဲ့သည်။/ကျွန်တော်ဒီအလုပ်ကို မုချလုပ်မည်။

(ခ) مَنْفِيٌّ အငြင်းဝါကျဖြစ်လျှင် ထိုကြိယာသည် اَلْمَاضِيُ အတိတ်ကာလပြကြိယာလား. . (သို့) اَلْمُضَارِعُ အနာဂတ်နှင့် ပစ္စုပ္ပန်ပြကြိယာလား ဆိုတာ ဦးစွာကြည့်ရမည်။

☆ اَلْمَاضِيُ ဖြစ်လျှင် အစတွင် مَا ရှိရမည်။ ဥပမာ- وَاللّٰهِ مَاقَامَ زَيْدٌ အလ္လာဟ်အရှင်မြတ်ကို ကျိန်ဆိုပါသည်။ ဇိုက်ဒ် မရပ်ခဲ့ပါ။

☆ اَلْمُضَارِعُ ဖြစ်လျှင် အစတွင် مَا/لَا/لَنْ တို့အနက်မှ တစ်ခုခုရှိရမည်။ ဥပမာ- وَاللّٰهِ مَاأَفْعَلَنَّ كَذَا / لَاأَفْعَلَنَّ كَذَا / لَنْ أَفْعَلَ كَذَا



